





**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**ခွင့်ပြုမိန့်**

**ခွင့်ပြုမိန့်အမှတ်** ၁၇၆/၂၀၁၈ ၂၀၁၈ ခုနှစ် ဧပြီလ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးကျော်ဝင်းအောင်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် ၈၉၊ လမ်း ၅၀၊ အမှတ် ၁ ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်၊ ၈/၃၄၊ ရေတမာလမ်း၊ ဘုရင့်နောင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၂၀၀၊ ၂၀၁၊ ၂၀၂၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ဧရိယာ ၁.၉၉၂ ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ၁၆,၇၇၃.၉၈ သန်း (အမေရိကန်ဒေါ်လာ ၂.၉၄ သန်း အပါအဝင် စုစုပေါင်းကျပ်သန်း တစ်သောင်းခြောက်ထောင့် ခုနစ်ရာ ခုနစ်ဆယ့်သုံးနှင့် ကိုးသိန်း ရှစ်သောင်းခန့်)

(၁၁) **တည်ဆောက်မှု/ ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** DIAMOND DRAGON COMPANY LIMITED (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်)

24.4.18

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၀၂၉

🖶 ၀၁-၆၅၈၀၃၇

စာအမှတ်၊မရက- ၃/မ-၀၁၀/၂၀၁၈ ( ၀၃၈ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) ၏ ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) ၏ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်စွဲပါစာ

၁။ Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) မှ မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၂၀၀၊ ၂၀၁၊ ၂၀၂၊ မြေတိုင်းရပ်ကွက် အမှတ်-၂၃ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၉၉၂ ဧကတွင် ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကိုကျင့်သုံးလျက် Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) အား ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၇၆/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရလုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့

တွင်ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန် ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး စနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည် ဖြစ်ပြီးမီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကိုဆောင်ရွက်ရမည် ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြု တတ်စေရန်အတွက် သင်တန်းများပေးရမည်။

(စ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ်(သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရလုပ်ငန်း ဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Diamond Dragon Company Limited (ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်

သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

29.4.18

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**Diamond Dragon Company Limited**
**(ဒိုင်းမွန်း ဒရက်ဂွန် ကုမ္ပဏီ လီမိတက်)**
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စု အစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ကန့်သတ်

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Diamond Dragon Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Diamond Dragon Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးကျော်ဝင်းအောင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | | - ဦးတင်အောင် (မြန်မာ) ၃၃.၄ % |
| | | - ဒေါ်လျော်လွမ်အိန်(ခ) ဒေါ်သန်းသန်းမော် (မြန်မာ) ၃၃.၃ % |
| | | - ဦးကျော်ဝင်းအောင် (မြန်မာ) ၃၃.၃ % |
| | လုပ်ငန်းအမျိုးအစား | - ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၂၀၀၊ ၂၀၁၊ ၂၀၂၊ မြေတိုင်းရပ်ကွက်အမှတ် -၂၃စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၉၉၂ ဧက(၄,၀၁၄.၄၈ စတုရန်းမီတာ) |
| ၃။ | မြေပိုင်ရှင် | - Diamond Dragon Company Limited |
| | မြေ/အဆောက်အဦ | - ၀.၉၉၂ ဧက ( ၄,၀၁၄.၄၈ စတုရန်းမီတာ) |
| | အကျယ်အဝန်း | - (၂၈၆ ပေ x ၁၄၇ ပေ) ၂ ထပ် အဆောက်အဦ ၁ လုံး |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၁၆,၇၇၃.၉၈ သန်း(US$ ၂.၉၄ သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | **- ကျပ် (သန်း)** |
| | ငွေသား | ၁၁,၀၉၉.၀၀ |
| | စက်ပစ္စည်း (ပြည်ပ) | ၃,၀၆၈.၀၀ (US$ ၂.၃၆ သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| | ဆောက်လုပ်ရေးပစ္စည်း(ပြည်ပ) | ၇၅၄.၀၀ (US$ ၀.၅၈ သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| | အဆောက်အဦကုန်ကျစရိတ် | ၁,၈၃၉.၅၅ |
| | ပရိဘောဂပစ္စည်း(ပြည်တွင်း) | ၁၃.၄၃ |
| | **စုစုပေါင်း** | **၁၆,၇၇၃.၉၈ (US$ ၂.၉၄ သန်း အပါအဝင်)** |
| ၆။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀ % ပြည်တွင်းရောင်းချခြင်း |

**ကန့်သတ်**

| | | | |
|---|---|---|---|
| ၇။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (ပထမနှစ်) | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း (ကျပ်) |
| | **Plastic Bags** | | |
| | 23 x 34 (50 gm) | ၁၃၇,၀၀၀ | ၃၅၀.၀၀ |
| | 23 x 34 (60 gm) | ၉၃၆,၀၀၀ | ၂၂၄.၀၀ |
| | 23 x 34 (70 gm) | ၁,၁၂၂,၈၀၀ | ၂၄၅.၀၀ |
| | 23 x 34 (80 gm) | ၈၅၂,၀၀၀ | ၂၆၆.၀၀ |
| | 14 x 19 (45 gm) | ၁၀၁,၀၀၀ | ၂၈၀.၀၀ |
| | 16 x 24 (49 gm) | ၂၆,၅၀၀ | ၃၂၂.၀၀ |
| | 23 x 37 (109 gm) | ၃၀၂,၇၀၀ | ၄၇၆.၀၀ |
| | 24 x 38 (117 gm) | ၁၇၈,၀၀၀ | ၄၉၇.၀၀ |
| | 26 x 39 (130 gm) | ၄၅၉,၅၀၀ | ၅၄၆.၀၀ |
| | 18 x 28 (80 gm) | ၁၀၉,၀၀၀ | ၁၈၉.၀၀ |
| | 20 x 30 (50 gm) | ၂၇,၆၀၀ | ၁၇၅.၀၀ |
| | 20 x 30 (80 gm) | ၃၈၆,၆၀၀ | ၂၃၀.၀၀ |
| | 23 x 35 (130 gm) | ၁,၄၇၁,၄၇၇ | ၄၆၂.၀၀ |
| | 26 x 41 (70 gm) | ၁၉၁,၁၃၀ | ၂၇၃.၀၀ |
| | 13 x 26 (19 gm) | ၅၄၄,၀၀၀ | ၁၅၄.၀၀ |
| | 20 x 34 (38 gm) | ၁,၄၄၁,၀၀၀ | ၂၁၀.၀၀ |
| | 24 x 36 (45 gm) | ၄၉၄,၀၀၀ | ၂၄၅.၀၀ |
| | 25 x 37 (47 gm) | ၆၀၀,၀၀၀ | ၂၅၂.၀၀ |
| | 29 x 40 (55 gm) | ၁၀၀,၀၀၀ | ၃၀၈.၀၀ |
| | 29 x 44 (65 gm) | ၄၄,၅၀၀ | ၃၂၂.၀၀ |
| | 29 x 48 (68 gm) | ၁၃၈,၀၀၀ | ၃၃၆.၀၀ |
| | **Plastic Bottle** | | |
| | 1 Lit Bottle | ၉,၄၇၆,၀၀၀ | ၁၅၀.၀၀ |
| | 2 Lit Bottle | ၂,၈၂၄,၃၀၀ | ၃၀၀.၀၀ |
| | 5 Lit Bottle | ၅၅၃,၁၀၀ | ၇၅၀.၀၀ |
| | **Plastic Jerry Can** | | |
| | 18 Lit Jerry Can | ၁၇၉,၀၀၀ | ၄၀၀၀.၀၀ |

| | | |
|---|---|---|
| ၈။ | အခြားတင်ပြချက် | **ပြည်တွင်း**<br>**ဝန်ထမ်းဦးရေ** ၃၄၄ ဦး<br>**အမြင့်ဆုံးလစာ** ကျပ် ၅၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀<br>- 1 US$ = ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Diamond Dragon Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ်- ၄၆၆/၁၉၉၁-၁၉၉၂ (၅-၃-၁၉၉၂) နှင့် ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရှေ့ဆောင်ဘဏ် (ရွှေတိဂုံဘုရားလမ်းဘဏ်ခွဲ) တွင် ၃၁-၁-၂၀၁၈ အထိ ကျပ် ၂,၃၃၁,,၉၈၁,၇၇၂.၇၉ နှင့် မြန်မာ့ရှေ့ဆောင်ဘဏ် (သိမ်ဖြူဘဏ်ခွဲ) တွင် ၁၅-၂-၂၀၁၈ အထိ US$ ၃၆၀,၅၆၅.၈၄ ရှိကြောင်း တင်ပြထားပါ သည်။ |
| ၉။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ISIC 2220 တွင် အကျုံးဝင်ပါသည်။<br>- မြေဧကစုစုပေါင်း ၃.၄၇၁ ဧကအနက်မှ ၀.၉၉၂ ဧကၜ ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း နှင့် ၀.၈၂၆ ဧကတွင် စားသုံး ဆီအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ကျန်မြေ ဧရိယာ ၁.၆၄ ဧကတွင် ထုတ်လုပ်မှု လုပ်ငန်း ၂ ခုတို့၏ ကုန်ကြမ်းများ ထားရှိမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ကုမ္ပဏီသည် မိမိပိုင်မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်သောကြောင့် မြေငှားသက်တမ်းနှင့် လုပ်ငန်းသက်တမ်း တင်ပြရန် မလိုကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၁၀/၂၀၁၈( ၀၂၈ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Diamond Dragon Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးတင်အောင်မှ ၃၃.၄ %၊ ဒေါ်သန်းသန်းမော်မှ ၃၃.၃ % နှင့် ဦးကျော်ဝင်းအောင်မှ ၃၃.၃ % ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Diamond Dragon Company Limited မှ မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၂၀၀၊ ၂၀၁၊ ၂၀၂၊ မြေတိုင်းရပ်ကွက်အမှတ် -၂၃ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၉၂ ဧက (၄,၀၁၄.၄၈ စတုရန်းမီတာ)တွင် ပလတ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦ Layout Plan၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများ၊ ထုတ်လုပ်မှုဖြစ်စဉ်များနှင့်အတူ တည်ဆောက်ရေးကာလ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၁၆,၇၇၃.၉၈ သန်း (US$ ၂.၉၄ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်(သန်း) | |
|---|---|---|
| ငွေသား | ၁၁,၀၉၉.၀၀ | |
| စက်ပစ္စည်း (ပြည်ပ) | ၃,၀၆၈.၀၀ | (US$ ၂.၃၆ သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| ဆောက်လုပ်ရေးပစ္စည်း(ပြည်ပ) | ၇၅၄.၀၀ | (US$ ၀.၅၈ သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| အဆောက်အဦကုန်ကျစရိတ် | ၁,၈၃၉.၅၅ | |
| ပရိဘောဂပစ္စည်း(ပြည်တွင်း) | ၁၃.၄၃ | |
| **စုစုပေါင်း** | ၁၆,၇၇၃.၉၈ | (US$ ၂.၉၄ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ အပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၃၄၄ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော ပလတ်စတစ်ပစ္စည်းအမျိုးမျိုးကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပလတ်စတစ် အိတ်အမျိုးမျိုး၊ ပုလင်းအမျိုးမျိုးနှင့် Jerry Can တို့၏ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများအား **နောက်ဆက်တွဲ** ဖြင့် တင်ပြအပ်ပါသည်။

၆။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့သို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်းသဘောထားပြန်ကြားခဲ့ပါသည်-

(က) **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်။

(ခ) **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)**ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

၇။ ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရှေ့ဆောင်ဘဏ် (ရွှေတိဂုံဘုရားလမ်း ဘဏ်ခွဲ) တွင် ၃၁-၁-၂၀၁၈ အထိ ကျပ် ၂,၃၃၁,၉၈၁,၇၇၂.၇၉ နှင့် မြန်မာ့ ရှေ့ဆောင်ဘဏ် (သိမ်ဖြူဘဏ်ခွဲ) တွင် ၁၅-၂-၂၀၁၈ အထိ US$ ၃၆၀,၅၆၅.၈၄ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက်တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းဖြစ်ပါသည်။

(ဃ) မြေဧကစုစုပေါင်း ၃.၄၇၁ ဧကအနက်မှ ၀.၉၉၂ ဧက၌ ပလတ်စတစ်ပစ္စည်း အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့် ၀.၈၂၆ ဧကတွင် စားသုံးဆီအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ကျန်မြေ ဧရိယာ ၁.၆၄ ဧကတွင်ထုတ်လုပ်မှုလုပ်ငန်း ၂ ခုတို့၏ ကုန်ကြမ်းများထားရှိမည်ဖြစ်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော(၇/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Diamond Dragon Company Limited မှ ပလတ်စတစ် ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

| အမျိုးအစား | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|
| **Plastic Bags** | **(gm)** | |
| 23 x 34 (50 gm) | ၁၃၇,၀၀၀ | ၃၅၀.၀၀ |
| 23 x 34 (60 gm) | ၉၃၆,၀၀၀ | ၂၂၄.၀၀ |
| 23 x 34 (70 gm) | ၁,၁၂၂,၈၀၀ | ၂၄၅.၀၀ |
| 23 x 34 (80 gm) | ၈၅၂,၀၀၀ | ၂၆၆.၀၀ |
| 14 x 19 (45 gm) | ၁၀၁,၀၀၀ | ၂၈၀.၀၀ |
| 16 x 24 (49 gm) | ၂၆,၅၀၀ | ၃၂၂.၀၀ |
| 23 x 37 (109 gm) | ၃၀၂,၇၀၀ | ၄၇၆.၀၀ |
| 24 x 38 (117 gm) | ၁၇၈,၀၀၀ | ၄၉၇.၀၀ |
| 26 x 39 (130 gm) | ၄၅၉,၅၀၀ | ၅၄၆.၀၀ |
| 18 x 28 (80 gm) | ၁၀၉,၀၀၀ | ၁၈၉.၀၀ |
| 20 x 30 (50 gm) | ၂၇,၆၀၀ | ၁၇၅.၀၀ |
| 20 x 30 (80 gm) | ၃၈၆,၆၀၀ | ၂၃၀.၀၀ |
| 23 x 35 (130 gm) | ၁,၄၇၁,၄၇၇ | ၄၆၂.၀၀ |
| 26 x 41 (70 gm) | ၁၉၁,၁၃၀ | ၂၇၃.၀၀ |
| 13 x 26 (19 gm) | ၅၄၄,၀၀၀ | ၁၅၄.၀၀ |
| 20 x 34 (38 gm) | ၁,၄၄၁,၀၀၀ | ၂၁၀.၀၀ |
| 24 x 36 (45 gm) | ၄၉၄,၀၀၀ | ၂၄၅.၀၀ |
| 25 x 37 (47 gm) | ၆၀၀,၀၀၀ | ၂၅၂.၀၀ |
| 29 x 40 (55 gm) | ၁၀၀,၀၀၀ | ၃၀၈.၀၀ |
| 29 x 44 (65 gm) | ၄၄,၅၀၀ | ၃၂၂.၀၀ |
| 29 x 48 (68 gm) | ၁၃၈,၀၀၀ | ၃၃၆.၀၀ |
| **Plastic Bottle** | **(Bottle)** | |
| 1 Lit Bottle | ၉,၄၇၆,၀၀၀ | ၁၅၀.၀၀ |
| 2 Lit Bottle | ၂,၈၂၄,၃၀၀ | ၃၀၀.၀၀ |
| 5 Lit Bottle | ၅၅၃,၁၀၀ | ၇၅၀.၀၀ |
| **Plastic Jerry Can** | **(Jerry can)** | |
| 18 Lit Jerry Can | ၁၇၉,၀၀၀ | ၄၀၀၀.၀၀ |



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC (OSS)/ ၀၁(၂၁/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.218
14/3/18

အကြောင်းအရာ။ **Diamond Dragon Company Limited မှ ပလတ်စတစ်အိတ်အမျိုးမျိုးနှင့် ပလတ်စတစ်ပုလင်းအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စားအုံးဆီထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းတို့ကိုဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အထွေထွေ/ ၂၀၁၈(၁၁၈)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၁၀/ ၂၀၁၈(၀၁၄)

၁။ မြန်မာနိုင်ငံသား ဦးတင်အောင်မှ ၃၃.၄%၊ ဒေါ်သန်းသန်းမော်မှ ၃၃.၃%နှင့် ဦးကျော်ဝင်းအောင်မှ ၃၃.၃% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Diamond Dragon Company Limited တည်ထောင်ကာ မြေကွက်အမှတ်- ၁၉၀/က၊ ၁၉၀/ခ၊ ၁၉၁၊ ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၈၊ ၁၉၉၊ ၂၀၀၊ ၂၀၁၊ ၂၀၂၊ ၂၀၃၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃.၄၇၁ ဧက (၁၄,၀၄၆.၆၅ စတုရန်းမီတာ)တွင် ပလတ်စတစ်အိတ်အမျိုးမျိုးနှင့်ပလတ်စတစ်ပုလင်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို ရည်ညွှန်း (၁) ပါစာဖြင့် လည်းကောင်း၊ စားသုံးဆီထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ရည်ညွှန်း (၂) ပါစာဖြင့်လည်းကောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန်ရည် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ(၁၄,၀၄၆.၆၅ စတုရန်းမီတာ) ပေါ်တွင် ၂၈၆ပေx၁၄၇ပေ၇လက္မရှိ (၃) ထပ်အဆောက်အဦ တည်ဆောက်ပြီး မြေညီထပ်တွင် စားသုံးဆီထုတ်လုပ်ခြင်း၊ ပထမထပ်တွင် ပလတ်စတစ်အမျိုးမျိုးထုတ်လုပ်ခြင်းနှင့် ဒုတိယထပ်တွင် ဆီပုလင်းသွင်းခြင်း၊ ပုံးဖြည့်ခြင်းလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက်ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ အစားအသောက်ထုတ်လုပ်ခြင်းအတွက် ထောက်ခံချက်လက်မှတ် ဖော်ပြပါရှိပါကြောင်း၊

(ဃ) ကုန်ကြမ်းတင်သွင်းမှုအနေဖြင့် Canola Oil ကို ကနေဒါနိုင်ငံမှ မက်ထရစ်တန် (၁၀၀)၊ Sun Flower Oil ကို ရုရှနှင့် ယူကရိန်းနိုင်ငံတို့မှ မက်ထရစ်တန်ချိန် (၃၅၀၀)၊ Soy Bean Oil ကို ထိုင်းနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံတို့မှ မက်ထရစ်တန်ချိန် (၃၅၀၀)၊ Premium Vegetable Oil ကို အင်ဒိုနီးရှား၊ မလေးရှားနှင့် စင်္ကာပူနိုင်ငံတို့မှ မက်ထရစ်တန်ချိန် (၁၂၀၀၀) လည်းကောင်း၊ Ground Nuts/Pea Nuts နှင့် Sesamen Seed တို့ကို ပြည်တွင်းမှ မက်ထရစ်တန်ချိန် (၁၀၀၀၀) တို့ကို နှစ်စဉ်တင်သွင်းသွားမည် ဖြစ်ကြောင်း၊

(င) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် (1 Lit Bottle, 2 Lit Bottle, 5 Lit Bottle, 18 Lit Bottle နှင့် Jerry Can စုစုပေါင်း (၁၃) သန်းကျော်နှင့် (Ground Nut, Ground Nut Cake, Sesamen Oil, Sesamen Cake) စုစုပေါင်းတန်ချိန် (၄) ထောင်ကျော်မှ (၁၀) နှစ်အတွင်း Bottle ပေါင်း (၁၉) သန်းကျော်နှင့် တန်ချိန်ပေါင်း (၆) ထောင်ကျော် အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပ ဒေ၊ လုပ်ထုံး /လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းများလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Diamond Dragon Company Limited မှ ပလတ်စတစ်အိတ်အမျိုးမျိုးနှင့်ပလတ်စတစ်ပုလင်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စားသုံးဆီထုတ်လုပ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့်ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) ကုန်ကြမ်းပစ္စည်းများဖြစ်သည့် Polypropylene နှင့် Polyethylene တို့သည်ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး မီးလောင်လွယ်သည့် ပစ္စည်းဖြစ်ခြင်းကြောင့် မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်ခြင်း၊ ပလတ်စတစ်အိတ် ထုတ်လုပ်ရန်အတွက် ဓာတုပစ္စည်းအရည်ကြိုရာမှ ထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့်အိုဇုန်းလွှာပျက်စီးစေနိုင်ခြင်း၊

(ဂ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းသည် ပလတ်စတစ်ပုလင်းအမျိုးမျိုးနှင့် အသင့်စားသုံးနိုင်သည့်ဆီထုတ်လုပ်ရောင်းချမည်ဖြစ်ခြင်းကြောင့် ထွက်ရှိလာမည့် စွန့်ပစ်အရည်များ၊ စွန့်ပစ်ပစ္စည်းများ၊ အခိုးအငွေ့များကြောင့် မြေထု၊ လေထုညစ်ညမ်းမှု၊ ထုပ်ပိုးပစ္စည်းများသည် ပလပ်စတစ်ကိုအခြေခံသည့် ပစ္စည်းများဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးဆိုင်ရာပြဿနာနှင့် အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Diamond Dragon Company Limited မှ ပလတ်စတစ်အိတ်အမျိုးမျိုးနှင့်ပလတ်စတစ်ပုလင်းအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စားသုံးဆီထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းတို့ကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အဆိုပါလုပ်ငန်း (၂) ခုမှာ ကုမ္ပဏီ (၁) ခုတည်းမှ တစ်နေရာတည်း (သို့မဟုတ်) အဆောက်အဦ (၁) ခု တည်း၌ တည်ဆောက် လည်ပတ်မည့်လုပ်ငန်းဖြစ်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း၊ လျော့ချမည့် လုပ်ငန်းစဉ်များနှင့် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအပေါ် စောင့်ကြပ်ကြည့်ရှုမည့် Parameter များသည် မြေဧရိယာတစ်ခုတည်းတွင် ဖြစ်သဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ

ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်

(DIAMOND DRAGON CO., LTD.)

က

၂၀၁၇ ခုနှစ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ

အရ

ပလပ်စတစ်ပစ္စည်းအမျိုးမျိုး
ထုတ်လုပ်မှုလုပ်ငန်း
ဆောင်ရွက်ရန်

အဆိုပြုတင်ပြချက်

ပုံစံ (၂)



157

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂၈ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးကျော်ဝင်းအောင်

(ခ) အဖအမည် ဦးသောင်း

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၁၄/ပသန(နိုင်)၁၄၄၆၃၅

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား မြန်မာ

(င) နေရပ်လိပ်စာ အမှတ် (၈၉)၊ လမ်း၅၀၊ အမှတ်(၁)ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၁) ပြည်တွင်း

(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ်

(ဆ) အီးမေးလ်လိပ်စာ

(ဇ) ပင်မကုမ္ပဏီအမည် ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ၄/၃၄၊ရေတာမာလမ်း၊ဘုရင့်နောင်၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ည) လုပ်ငန်းအမျိုးအစား ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရန်

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ..................

(ခ) အဖအမည် ..................

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ..................

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ..................

(င) နေရပ်လိပ်စာ ..................

(၁) ပြည်တွင်း ..................

(၂) ပြည်ပ ..................

(စ) ပင်မကုမ္ပဏီအမည် ..................

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ..................

**မှတ်ချက်။** အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ..................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..................

(ဃ) နိုင်ငံသား

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်
နေရပ်လိပ်စာ

(စ) တယ်လီဖုန်း /ဖက်စ်

(ဆ) အီးမေးလ်လိပ်စာ

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်
☐ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)
☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | ဦးတင်အောင် | မြန်မာ | ၃၃.၄ % |
| ၂ | ဒေါ်သန်းသန်းမော် | မြန်မာ | ၃၃.၃ % |
| ၃ | ဦးကျော်ဝင်းအောင် | မြန်မာ | ၃၃.၃ % |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ
(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၃,၀၀၀,၀၀၀,၀၀၀/-(ကျပ်သန်းသုံးထောင်တိတိ)
(ခ) အစုရှယ်ယာအမျိုးအစား သာမန်
(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ ၁စုလျှင် ကျပ်တစ်သိန်းတန်
အစုရှယ်ယာပေါင်း ၃၀၀၀၀

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

ကျပ်/US$(သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ကျပ်သန်း ၃၀၀၀

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း -

စုစုပေါင်း ကျပ်သန်း ၃၀၀၀

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ ထည့်ဝင်ပြီးဖြစ်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ကျပ်သန်း ၁၆၇၇၃.၉၈

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း

(စ) ရင်းနှီးမြှုပ်မှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ၂ နှစ်

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | | |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | - | - |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ ကုန်အမှတ်တံဆိပ်၊ | | |

| | | |
|---|---|---|
| မူပိုင်ခွင့် စသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများကိုတန်ဖိုးဖြတ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ | – | – |
| (င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | | |
| (စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) | | |
| **စုစုပေါင်း** | | |

**မှတ်ချက်။** အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | ကျပ်(သန်းပေါင်း) ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| (က) ငွေပမာဏ | | ၁၁၀၉၉.၀၀ | ၁၁၀၉၉.၀၀ |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | USD 2.36 | | ၃၀၆၈.၀၀ |
| (ဂ) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း | USD 0.58 | | ၇၅၄.၀၀ |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | | ၁၈၃၉.၅၅ | ၁၈၃၉.၅၅ |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | ၁၃.၄၃ | ၁၃.၄၃ |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | | |
| (ဆ) အခြား | | | |
| **စုစုပေါင်း** | USD 2.94 | ၂၁၉၅၁.၉၈ | ၁၆၇၇၃.၉၈ |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ ........................ ကျပ်

........................ အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ ........................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်ကောင်ပိုင်း မြေတိုင်းရပ်ကွက်အမှတ်(၂၃-စက်မှုဇုန်) မြေကွက်အမှတ် (၁၉၂၊၁၉၃၊၁၉၄၊၂၀၀၊၂၀၁၊၂၀၂) မြေ ၀.၉၉၂ ဧက

(ခ) မြေ/သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ........................

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် ၂၈၆ ' x ၁၄၇' (၂)ထပ်

(၃) လက်ရှိပိုင်ဆိုင်သူ ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန........................

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်........................

(ဂဂ) နေရပ်လိပ်စာ........................

........................

(၄) မြေအမျိုးအစား မြေငှားစာချုပ်

(၅) မြေငှားဂရန် ခွင့်ပြုကာလ နှစ် ၆၀

(၆) ငှားရမ်းမည့်ကာလ ........................မှ ........................ ထိ ( )နှစ်

(၇) ငှားရမ်းခနှုန်းထား........................

(ကက) မြေ........................

(ခခ) အဆောက်အအုံ........................

(၈) ရပ်ကွက် ၂၃-စက်မှုဇုန်

(၉) မြို့နယ် ဒဂုံမြို့သစ်တောင်ပိုင်း

(၁၀) ပြည်နယ်/တိုင်းဒေသကြီး ရန်ကုန်တိုင်းဒေသကြီး

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ်........................

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်

(ခခ) အဖအမည် ........................

(ဂဂ) နိုင်ငံသား ........................

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ ........................
နိုင်ငံသားစိစစ်ရေးကတ်အမှတ်

(င) နေရပ်လိပ်စာ ..........

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် ပင်မအဆောက်အဦ ၁ လုံး

(၂) အကျယ်အဝန်း ၂၈၆' x ၁၄၇' (၂)ထပ်

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု ပလပ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် 3000 KVA

(စ) နှစ်စဉ် ရေလိုအပ်ချက် ဂါလံ သန်း၅၀၀

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက်

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..........

(ဂ) ဘဏ်စာရင်းအမှတ် MABFE 9960213996008929011
MMK 0030123003009197016
(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၁၀ | - | ၁၀ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၃၃ | - | ၃၃ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၁၇ | - | ၁၇ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၂၀ | - | ၂၀ |
| (င) | အကြံပေး | - | - | |
| (စ) | ကျွမ်းကျင်လုပ်သား | ၁၉၄ | | ၁၉၄ |
| (ဆ) | အခြေခံလုပ်သား | ၇၀ | | ၇၀ |
| | စုစုပေါင်း | ၃၄၄ | | ၃၄၄ |

**မှတ်ချက်။** အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/မရှိဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ ရှိပါသည်။

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ ရှိပါသည်။

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ်

အမည် U KYAW WIN AUNG

ရာထူး Director

ဌာန/ကုမ္ပဏီတံဆိပ် Diamond Dragon Company Limited

ရက်စွဲ-

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀ % နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏-

(၁) အမည် ---- မရှိပါ ----

(၂) ဆက်သွယ်ရမည့်လိပ်စာ ----

(၃) မှတ်ပုံတင်အမှတ် ----

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) ---- မရှိပါ ----

(၂) ----

(၃) ----

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ (၂)ဒဂုံမြို့သစ်တောင်ပိုင်း၊မြေတိုင်းရပ်ကွက်အမှတ်(၂၃-စက်မှုဇုန်)မြေကွက်အမှတ် (၁၉၂၊၁၉၃၊၁၉၄၊၂၀၀၊၂၀၁၊၂၀၂)မြေ ၀.၉၉၂ ဧက

----

----

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း

----

----

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) ကျပ်သန်း ၁၆၇၇၃.၉၈

အမေရိကန်ဒေါ်လာသန်း ၂.၉၄ ကျပ်သန်း၂၁၉၅၁.၉၈

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

(က) တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) ---------- ၂ နှစ် ----------

(ခ) စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊လတို့ဖြင့်ဖော်ပြရန်) ------------------------------

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

(က) ပြည်တွင်း (၃၄၄)ဦး ------------------------------

(ခ) ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) ------------------------------

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှု ပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန် ဒေါ်လာ တို့ဖြင့်ဖော်ပြရန်) -

(က) ငွေသားဖြင့်ယူဆောင်မှုပမာဏ ------------------------------

(ခ) ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ ------------------------------

မှတ်ချက်။ ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်း အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာ သဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ............ U KYAW WIN AUNG

ရာထူး ............ Director

Diamond Dragon Company Limited.

ဌာန/ကုမ္ပဏီတံဆိပ် ............



# DIAMOND DRAGON CO., LTD.

OFF : - NO.(NGA/34) YAETAMAR ROAD, BAYINT NAUNG,
MAYANGONE TOWNSHIP, YANGON, MYANMAR.

BRANCH OFF : # 02-04, # 02-05, 1ST FLOOR, ... PLAZA,
LANMADAW STREET, LAT... TOWNSHIP,
YANGON, MYANMAR
PHONE : +951-2300540, +951-2300..., +951-2300547
FAX : +951-2300546
E-MAIL : ddsd@ddragon.com.mm
ddtour@ddragon.com.mm, ...@ddragon.com.mm




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။ DDC/ MIC/2018 ( )
ရက်စွဲ ။ ။ ၂၀၁၈ခုနှစ်၊မတ်လ(၂၈)ရက်။

အကြောင်းအရာ။ ။ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက်မှ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်း။

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပလပ်စတစ်ပစ္စည်းအမျိုးမျိုးထုတ်လုပ်သည့် စက်များအားတင်သွင်း ထုတ်လုပ်သည့် စက်ရုံသစ်ကို တိုးချဲ့တည်ထောင်ပြီး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည်ဖြစ် ပါသည်။

၂။ အဆိုပါစက်ရုံကို ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်း(၂၃–စက်မှုဇုန်)၊ မြေကွက်အမှတ်(၁၉၂၊၁၉၃၊၁၉၄၊၂၀၀၊၂၀၁၊၂၀၂) မြေ ၀.၉၉၂ ဧကပေါ်တွင် သွင်းကုန်အစားထိုး ပလပ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်သည့် စက်ရုံတည်ထောင်ပြီး ထုတ်လုပ်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက် မည်ဖြစ်ပါသည်။စက်ရုံ၏အရွယ် အစားမှာ ၂၈၆'x၁၄၇' (၂)ထပ်ဖြစ်ပြီး ပလပ်စတစ်အိတ်၊ ပလပ်စတစ်ပုလင်း၊ ပလပ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ် ခြင်းလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်း (၃၄၄)နေရာရရှိစေခြင်း၊နိုင်ငံတော်တွင်းအခွန်အခများ ရရှိစေခြင်းစသည့် အကျိုးကျေးဇူးများရရှိနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက်မှ သွင်းကုန်အစားထိုး ပလပ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်သည့်လုပ်ငန်းအား ၂၀၁၇ခုနှစ် ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှုအား ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြ လျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

U KYAW WIN AUNG
Director
Diamond Dragon Company Limited



# DIAMOND DRAGON CO., LTD.

OFF : - NO.(NGA/34) YAETAMAR ROAD, BAYINT NAUNG, MAYANGONE TOWNSHIP, YANGON, MYANMAR.

BRANCH OFF : # 02-04, # 02-05, 1ST FLOOR, ... PLAZA, LANMADAW STREET, LATHA TOWNSHIP, YANGON, MYANMAR
PHONE : +951-2300540, +951-2300541, +951-2300544
FAX : +951-2300546
E-MAIL : ddsd@ddragon.com.mm
ddtour@ddragon.com.mm, tour@ddragon.com.mm




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။ DDC/ MIC/2018 ( )
ရက်စွဲ ။ ။ ၂၀၁၈ခုနှစ်၊မတ်လ(၂၈ )ရက်။

အကြောင်းအရာ။ ။ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မှုလုပ်ငန်းအားဆောင်ရွက်ရန် လျှောက်ထားခြင်းနှင့်စပ်လျဉ်း၍ ကတိဝန်ခံချက်တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၇ခုနှစ် ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်တောင်ပိုင်း၊မြေတိုင်းရပ်ကွက်အမှတ် (၂၃–စက်မှုဇုန်)၊ မြေကွက်အမှတ်(၁၉၂၊၁၉၃၊ ၁၉၄၊၂၀၀၊၂၀၁၊၂၀၂)မြေ ၀.၉၉၂ ဧကပေါ်တွင် စက်ရုံတည်ထောင်ပြီး သွင်းကုန် အစားထိုးပလပ်စတစ်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားရာတွင် အောက်ဖော်ပြပါတို့ကို ဝန်ခံကတိပြုပါသည်။–

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းအား အဆိုပြုရင်းနှီးမြှုပ်နှံမှုကာလအတွင်း အောင်မြင်အောင်တိုးချဲ့လုပ်ကိုင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်စပ်လျဉ်း၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအရ လိုအပ်သောအစီအမံများအား လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(င) မီးဘေးကြိုတင်ကာကွယ်မှုကိုလည်း စီမံဆောင်ရွက်ထားပြီး နိုင်ငံတော်မှချမှတ်ပြဋ္ဌာန်းထားသော နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊လုပ်ထုံးလုပ်နည်းများစသည်များကို တိကျစွာလိုက်နာဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) နိုင်ငံတော်သို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာပေးသွင်းခြင်း၊ MIC သို့ အစီရင်ခံစာများအားမှန်ကန်စွာတင်ပြခြင်း၊ အခွန်ဌာနသို့စာရင်းများကို တိကျမှန်ကန်စွာ တင်ပြခြင်း၊ အခွန်ကင်းလွတ်ခွင့်ကာလပြီးဆုံးချိန်တွင်လည်း ကုမ္ပဏီများဆိုင်ရာ အခွန်လုပ်ငန်းစုရုံးသို့စာရင်းများအား တိကျမှန်ကန်စွာတင်ပြခြင်း၊ ပေးသွင်းရမည့်အခွန်အခများကို မှန်ကန်စွာပေးဆောင်ခြင်းတို့ကို ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။




(ဆ) လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ (၃၄၄)နေရာရရှိစေရန် ဆောင်ရွက်သွားပါမည်။အိမ်ထောင်စုတစ်ဦးလျှင် မှီခိုသူအပါအဝင် (၅)ဦးဖြင့်တွက်ချက်ပါက လူဦးရေ(၁၇၂၀)ဦးခန့်အတွက် အဆင်ပြေနိုင်မည်ဖြစ်ပါသည်။

(ဇ) လုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီး၏ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်ထားရှိပါမည်။

(ဈ) အမှန်တကယ်လိုအပ်သောစက်နှင့် စက်ပစ္စည်းအသစ်များကိုသာ ပြည်ပမှမှာယူတင်သွင်းမည်ဖြစ်ကြောင်းကို ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

**U KYAW WIN AUNG**
**Director**
**Diamond Dragon Company Limited.**

